Annexure (1)

EARTH INDUSTRIAL (MYANMAR) CO., LTD.
TOTAL MATERIAL SCHEDULE FOR IMPORT

| Type | Total Value US $ |
|---|---|
| H Type | 286758.18 |
| E Type | 325155 |
| N Type | 163844.2 |
| **Total** | 775757.4 |

Annexure (1)

# EARTH INDUSTRIAL (MYANMAR) CO.,LTD.
## RAW MATERIAL SCHEDULE OF H TYPE
(To Be Inported for CMP)

US $

| Process | Material | A/U | For 1 Unit * | | Year 1 For 12 mn units | | Year 2 For 18 mn units | | Year 3-10 For 18 mn units | |
|---|---|---|---|---|---|---|---|---|---|---|
| | | | Qty | Value | Qty | Value | Qty | Value | Qty | Value |
| Forming & Taping | Lead Wire | G | 0.3502 | 0.00193331 | 4202400 | 23199.72 | 6303600 | 34799.58 | 6303600 | 34799.58 |
| | Base Paper | M | 0.12051 | 0.00225776 | 1446120 | 27093.12 | 2169180 | 40639.68 | 2169180 | 40639.68 |
| | Plascti Tape | M | 0.12051 | 0.00183134 | 1446120 | 21976.08 | 2169180 | 32964.12 | 2169180 | 32964.12 |
| Welding | Alloy | G | 0.01854 | 0.00321875 | 222480 | 38625 | 333720 | 57937.5 | 333720 | 57937.5 |
| | Flux | G | 0.00309 | 0.00001648 | 37080 | 197.76 | 55620 | 296.64 | 55620 | 296.64 |
| Rosin Coating | R-1 | G | 0.00618 | 0.00002781 | 74160 | 333.72 | 111240 | 500.58 | 111240 | 500.58 |
| Epoxy Coating | Epoxy | G | 0.013184 | 0.00015862 | 158208 | 1903.44 | 237312 | 2855.16 | 237312 | 2855.16 |
| | Epoxy | G | 0.013184 | 0.00015862 | 158208 | 1903.44 | 237312 | 2855.16 | 237312 | 2855.16 |
| | Stiffen | G | 0.003193 | 0.00009064 | 38316 | 1087.68 | 57474 | 1631.52 | 57474 | 1631.52 |
| | Stiffen | G | 0.000536 | 0.00001339 | 6427.2 | 160.68 | 9640.8 | 241.02 | 9640.8 | 241.02 |
| | Stiffen | G | 0.000268 | 0.00001339 | 3213.6 | 160.68 | 4820.4 | 241.02 | 4820.4 | 241.02 |
| Case | Insulating Case | PCS. | 1.03 | 0.00618 | 12360000 | 74160 | 18540000 | 111240 | 18540000 | 111240 |
| Cleaning | Clean Coat | G | 0.309 | 0.0000309 | 3708000 | 370.8 | 5562000 | 556.2 | 5562000 | 556.2 |
| Packing | Plastic Bag | PCS. | 0.00412 | | 49440 | | 74160 | | 74160 | |
| | Manual | PCS. | 0.00206 | | 24720 | | 37080 | | 37080 | |
| | Inner Box | PCS. | 0.00206 | | 24720 | | 37080 | | 37080 | |
| | Carton Box | PCS. | | | | | | | | |
| | | | | 0.01593101 | | 191172.12 | | 286758.18 | | 286758.18 |

* Including 3% allowance for wastage

Note-G=Gran, M=Metre, PCS=Pieces

Annexure (1)

**EARTH INDUSTRIAL (MYANMAR) CO., LTD.**

**RAW MATERIAL SCHEDULE OF E TYPE**

**(To Be Inported for CMP)**

(US $)

| Process | Material | A/U | For 1 Unit * | | Year 1 For 12 mn units | | Year 2 For 18 mn units | | Year 3-10 For 18 mn units | |
|---|---|---|---|---|---|---|---|---|---|---|
| | | | Qty | Value | Qty | Value | Qty | Value | Qty | Value |
| Forming & Taping | Lead Wire | G | 0.5356 | 0.00287061 | 6427200 | 34447.32 | 9640800 | 51671 | 9640800 | 51670.98 |
| | Base Paper | M | 0.12051 | 0.00225776 | 1446120 | 27093.12 | 2169180 | 40639.7 | 2169180 | 40639.68 |
| | Plascti Tape | M | 0.12051 | 0.00183134 | 1446120 | 21976.08 | 2169180 | 32964.1 | 2169180 | 32964.12 |
| Welding | Alloy | G | 0.02163 | 0.00375538 | 259560 | 45064.56 | 389340 | 67596.8 | 389340 | 67596.84 |
| | Flux | G | 0.00309 | 0.00001648 | 37080 | 197.76 | 55620 | 296.64 | 55620 | 296.64 |
| Rosin Coating | R-1 | G | 0.00618 | 0.00002781 | 74160 | 333.72 | 111240 | 500.58 | 111240 | 500.58 |
| Epoxy Coating | Epoxy | G | 0.013184 | 0.00015862 | 158208 | 1903.44 | 237312 | 2855.16 | 237312 | 2855.16 |
| | Epoxy | G | 0.013184 | 0.00015862 | 158208 | 1903.44 | 237312 | 2855.16 | 237312 | 2855.16 |
| | Stiffen | G | 0.003193 | 0.00009064 | 38316 | 1087.68 | 57474 | 1631.52 | 57474 | 1631.52 |
| | Stiffen | G | 0.0005356 | 0.00001339 | 6427.2 | 160.68 | 9640.8 | 241.02 | 9640.8 | 241.02 |
| | Stiffen | G | 0.0002678 | 0.00001339 | 3213.6 | 160.68 | 4820.4 | 241.02 | 4820.4 | 241.02 |
| Case Cleaning | Insulating Case | PCS. | 1.03 | 0.0068392 | 12360000 | 82070.4 | 18540000 | 123106 | 18540000 | 123105.6 |
| | Clean Coat | G | 0.309 | 0.0000309 | 3708000 | 370.8 | 5562000 | 556.2 | 5562000 | 556.2 |
| Packing | Plastic Bag | PCS. | 0.00412 | | 49440 | | 74160 | | 74160 | |
| | Manual | PCS. | 0.00206 | | 24720 | | 37080 | | 37080 | |
| | Inner Box | PCS. | 0.00206 | | 24720 | | 37080 | | 37080 | |
| | Carton Box | PCS. | | | | | | | | |
| | | | | 0.01806414 | | 216769.68 | | 325155 | | 325154.5 |

* Including 3% allowance for wastage

Note-G=Gran, M=Metre, PCS=Pieces

ပူးတွဲ : (1)

# EARTH INDUSTRIAL (MYANMAR) CO., LTD.
## RAW MATERIAL SCHEDULE OF N TYPE
### (To Be Inported for CMP)

US $

| Process | Material | A/U | For 1 unit * | | Year 3-10 For 12 mn units | |
|---|---|---|---|---|---|---|
| | | | Qty | Value | Qty | Value |
| Forming & Taping | Lead Wire | G | 0.2987 | 0.00169641 | 3584400 | 20356.92 |
| | Base Paper | M | 0.12051 | 0.00225776 | 1446120 | 27093.12 |
| | Plascti Tape | M | 0.12051 | 0.00183134 | 1446120 | 21976.08 |
| Welding | Alloy | G | 0.00824 | 0.00143067 | 98880 | 17168.04 |
| | Flux | G | 0.00206 | 0.00001133 | 24720 | 135.96 |
| Rosin Coating | Rosin | G | 0.00412 | 0.00001854 | 49440 | 222.48 |
| Epoxy Coating | Epoxy | G | 0.006571 | 0.00007931 | 78856.8 | 951.72 |
| | Epoxy | G | 0.006571 | 0.00007931 | 78856.8 | 951.72 |
| | Stiffen | G | 0.0007 | 0.00001957 | 8404.8 | 234.84 |
| | Stiffen | G | 0.000536 | 0.00001339 | 6427.2 | 160.68 |
| | Stiffen | G | 0.000103 | 0.00000515 | 1236 | 61.8 |
| Case Cleaning | Insulating Case | PCS. | 1.03 | 0.00618 | 12360000 | 74160 |
| | Clean Coat | G | 0.309 | 0.0000309 | 3708000 | 370.8 |
| Packing | Plastic Bag | PCS. | 0.00412 | | 49440 | |
| | Manual | PCS. | 0.00103 | | 12360 | |
| | Inner Box | PCS. | 0.00103 | | 12360 | |
| | Carton Box | PCS. | | | | |
| | | | | 0.01365368 | | 163844.2 |

* Including 3% allowance for wastage  Note-G=Gran, M=Metre, PCS=Pieces

 မြေငှားရမ်းခြင်းသဘောတူစာချုပ်
(မူကြမ်း)

ဤစာချုပ်ကို ရန်ကုန်မြို့၌ ၁၉၉၉ ခုနှစ်၊ လ၊ ( ) ရက်နေ့၌၊ ဒေါ်ခိုင်ဇော် ၊ အမျိုးသားမှတ်ပုံတင်အမှတ်- ဘီ/အာဂျီအင်န်-၀၂၃၄၉၇၊ အမှတ် ၄၀၊ အင်းလျားလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်း နေထိုင်သူ (နောင်တွင်အငှားချထားသူဟုခေါ်တွင်စေပြီး၊ ယင်းဖော်ပြချက်တွင်အဆိုပါမြေကွက်အားဆက်ခံသူများ နှင့် ဥပဒေအရခွင့်ပြုထားသည့်လွှဲအပ်ခံရသူများပါဝင်သည်) ကတစ်ဖက်

နှင့်

အခြားတစ်ဖက်တွင် အပ်(သ်) အင်ဒတ်(စ်)ထရီရယ်(လ်) (မြန်မာ) ကုမ္ပဏီလီမိတက်အား ကိုယ်စားပြုသူ ဒေါ်ရင်ရင်တင့် (ဒါရိုက်တာ) ၁၂/ကမရ(နိုင်) ၀၃၈၀၉၂ အမှတ် (၈)-(၉)၊ ဘုရင့်နောင်လမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းနေထိုင်သူ (နောင်တွင်အငှားချထားသူဟုခေါ်တွင်စေပြီး၊ ယင်းဖော်ပြချက်တွင်အဆိုပါမြေကွက်အားဆက်ခံသူများနှင့်ဥပဒေအရ ခွင့်ပြုထားသည့်လွှဲအပ်ခံရသူများပါဝင်သည်) ကအခြားတစ်ဖက်တို့သည်အောက်ဖော်ပြပါစည်းကမ်း များနှင့် အညီနှစ်ဦးသဘောတူစာချုပ်ချုပ်ဆိုကြပါသည်။

၁။ **ရည်ရွယ်ချက်**

၁.၁ ဤစာချုပ်သည်အငှားချထားသူအား မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ စက်မှုလက်မှု လုပ်ငန်းလုပ်ကိုင်ရန်အတွက် မြေအသုံးချခွင့်ပြုထားသော ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၃)၊ မြေကွက်အမှတ် ၄၇၅၊ မြေဧရိယာ (၂၃.၈၄၅၈ဧက) မှနောက်ဆက်တွဲမြေပုံပေါ်တွင် 'ဂ' အမှတ်အသားပြ၍အဝါရောင်ချယ်ထားသောမြေဧရိယာ(၃ဧက) (နောင်တွင်အငှားချထားသည့်မြေကွက်ဟုခေါ်တွင်စေမည်) ကိုအငှားချထားခြင်းခံရသူအား (Thermal cutoffs) ထုတ်လုပ်ရေးလုပ်ငန်းလုပ်ကိုင်ရန် အလို့ငှာငှားရမ်းသည့် စာချုပ် ဖြစ်ပါသည်။

၂။ အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း

၂.၁ အငှားချထားသူသည် နောက်ဆက်တွဲအဖြစ်ဖော်ပြထားသောအငှားချထားသည့် မြေကွက်ကိုဥပဒေနှင့်အညီတရားဝင်ပိုင်ခွင့်ရှိသူဖြစ်ကြောင်းအာမခံသည်။ အငှားချထားသူသည် အငှားချထားသည့်မြေကွက်ကို အောက်ပါစည်းကမ်းချက်များနှင့်အညီအငှားချထားခြင်းခံရသူအားအငှားချထားရန်သဘောတူသည်။ အငှားချထားခြင်းခံရသူသည်စာချုပ်ကို အကောင်အထည်ဖော်ရန်ငွေကြေးအင်အား ပြည့်စုံသူများ ဖြစ်ကြောင်းအာမခံ သည်။

၃။ ငှားရမ်းမည့်အချိန်ကာလ

၃. ၁ ငှားရမ်းမည့်အချိန်ကာလမှာ အစကနဦးတွင်စာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍ (၂၀)နှစ်(နှစ်ဆယ်နှစ်) ကာလထိဖြစ်ပါသည်။ ယင်းကာလကုန်ဆုံးသောအခါ နောက်ထပ်ငှားရမ်းသက်တမ်းကို ၅နှစ်(ငါးနှစ်)စီနှစ်ကြိမ်တိုးမြှင့်ရန်ဖြစ်သည်။ ထိုသို့တိုးမြှင့်နိုင်ရန်ကနဦး(၂၀)နှစ်ကာလ၏နောက်ဆုံးနှစ်တွင်ထပ်မံညှိနှိုင်းရမည်။ အငှားချထားသူနှင့်အငှားချထားခြင်းခံရသူတို့၏ နှစ်ဦးနှစ်ဖက်ညှိနှိုင်းမှုအရမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏သဘောတူခွင့်ပြုချက် နှင့်အညီဆက်လက်ငှားရမ်းမည်ဖြစ်သည်။

၄။ ငှားရမ်းခနှုန်း

၄. ၁ ငှားရမ်းခနှုန်းမှာတစ်လလျှင် ကျပ် ၁၀၀၀၀၀/- (ကျပ်တစ်သိန်း တိတိ)ဖြင့် တစ်နှစ်လျှင် ကျပ် ၁၂၀၀၀၀၀/-(ကျပ်တစ်ဆယ့်နှစ်သိန်းတိတိ)ဖြစ်ပါသည်။ သို့ရာတွင်စက်များတပ်ဆင်ဆဲကာလ ၁နှစ်(တစ်နှစ်)အတွက်ငှားရမ်းခကိုပေးချေခြင်းမပြုပဲ လုပ်ငန်းစတင်သည့်နေ့မှစ၍ငှားရမ်းခကိုလစဉ်ပေးချေရန်ဖြစ်ပါသည်။ အငှားချထားသူနှင့်အငှားချထားခြင်းခံရသူတို့ သည်အငှားချထားသောမြေနေရာအတွက်စာချုပ်စတင်အတည်ဖြစ်သည့် နေ့မှစ၍ (၅နှစ်) လျှင်တစ်ကြိမ်ငှားရမ်းခနှုန်းထားများကိုနောက်ဆုံးငှားရမ်းခ၏ (၁၅) ရာခိုင်နှုန်းထက်မပိုစေဘဲတိုးမြှင့်ခြင်းကိုပြုလုပ်ရန်အတွက်ပြန်လည်ညှိနှိုင်းပြင်ဆင်သုံးသပ်ပိုင်ခွင့် ရှိစေရမည်။

၅။ ငှားရမ်းခပေးချေရမည့်နေ့ရက်

၅. ၁ ငှားရမ်းခကိုလစဉ်ပေးချေရန် နှစ်ဦးနှစ်ဖက်သဘောတူညီကြ၍ အငှားချထားခြင်းခံရသူသည်မြေငှားရမ်းခြင်းသဘောတူစာချုပ်လက်မှတ်ရေးထိုးပြီး (၇) ရက်အတွင်းလစဉ်ကျသင့်သည့်ငှားရမ်းခကိုအပြည့်အဝပေးချေရမည်။ ကျန်လများအတွက်ငှားရမ်းခကိုလစဉ်လဆန်း(၁)ရက် နေ့မှ (၇)ရက်အတွင်း အပြည့်အဝပေးချေရမည်။

၆။ အငှားချထားခြင်းခံရသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ

၆. ၁ အငှားချထားသည့်မြေကွက်အတွက် ပေးဆောင်ရန် နိုင်ငံတော်အစိုးရနှင့်စည်ပင်သာယာရေး အဖွဲ့မှကောက်ခံသောအခွန်အခအားလုံးကိုပေးဆောင်ရန်။

၆. ၂ ငှားရမ်းခများကိုဤစာချုပ်အပိုဒ်(၃)နှင့်(၄)ပါစည်းကမ်းများအတိုင်းပေးရန်တာဝန်ယူရန်။

၆. ၃ ငှားရမ်းကာလမကုန်ဆုံးမီလုပ်ငန်းကို ရပ်စဲရန်ဖြစ်စေ/ တိုးချဲ့ရန်ဖြစ်စေ ပြုလုပ်လိုပါက အနည်းဆုံး (၃)လ ကြိုတင်၍ အငှားချထားသူအားစာဖြင့် အကြောင်းကြားရန်။

၆.၄ အငှားချထားခြင်းခံရသူသည် အငှားချထားသည့်မြေကွက်ကိုတဆင့်ငှားခြင်း၊ ထပ်ဆင့်လွှဲပြောင်းခြင်းတို့ကို အငှားချထားသူ၏စာဖြင့်ကြိုတင်ခွင့်ပြုချက်မရရှိပဲမည်သို့မျှဆောင်ရွက်ခြင်း မပြုရန်။

၆.၅ လုပ်ငန်းရပ်စဲသောအခါ အငှားချခြင်းခံရသူသည် မရွှေ့မပြောင်းနိုင်သောပစ္စည်းများကို ပြန်လည်လွှဲ ပြောင်းရယူခွင့်ရှိစေရန်။

၆.၆ အငှားချထားသောမြေကွက်ပေါ်တွင် တည်ဆဲဥပဒေအရလုပ်ကိုင်ခွင့်ပြုထားသောလုပ်ငန်းများကိုသာလုပ်ကိုင်ရန်။

## ၇။ ပတ်ဝန်းကျင်ညစ်ညမ်းမှုထိန်းသိမ်းကာကွယ်ခြင်း

၇.၁ အငှားချထားခြင်းခံရသူသည် အငှားချထားသည့် မြေကွက်တွင်လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် ညစ်ညမ်းမှု၊ လေထု၊ ရေထု၊ မြေထု သဘာဝဘေးအန္တရာယ်များ ဖြစ်ပေါ်ခြင်းမရှိစေရန် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်မှုလုပ်ငန်းကို စနစ်တကျ လုပ်ကိုင်ရမည်။

## ၈။ အငှားချထားသူ၏တာဝန်များ

အငှားချထားသူ၏တာဝန်မှာ အောက်ပါအတိုင်းဖြစ်သည်။

၈.၁ အငှားချထားသူသည်အငှားချထားသည့်မြေကွက်နှင့်ယင်းမြေကွက်ပေါ်ရှိအကျိုးခံစားခွင့်အရပ်ရပ်ကိုအငှားချထားခြင်းခံရသူသို့ငှါးရမ်းခြင်းစတင်သည့်နေ့တွင်အေးချမ်းသာယာစွာလွှဲပြောင်းပေးအပ်ရန်။

၈.၂ အငှားချထားသည့်မြေကွက်ကို နှစ်ပေါင်း(၂၀)နှစ်(နှစ်ဆယ်နှစ်)အထိငှားရမ်းအသုံးပြုခွင့်ပေးရန်ယင်းသက်တမ်း ပြည့်မြောက်ပြီး၍ဆက်လက်ငှားရမ်းရန်အတွက်နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရန်။

၈.၃ အငှားချထားခြင်းခံရသူအား အငှားချထားသောမြေကွက်ကို ငှားရမ်းသက်တမ်းတစ်လျှောက်လုံးအေးချမ်းသာယာစွာ အသုံးပြုခွင့်ပေးရန်နှင့် ထိုသို့အသုံးပြုခွင့်ပေးခြင်းတွင် အငှားချထားခြင်း ခံရသူကိုယ်တိုင် သာမကနောင်တွင် ဥပဒေနှင့်အညီ တရားဝင်ပိုင်ဆိုင်ခွင့်ရှိလာသူများ သို့မဟုတ် ဥပဒေနှင့်အညီလွှဲပြောင်းရရှိသူများလည်းသက်ဆိုင်စေရန်။

၈.၄ အငှားချထားသောမြေကွက်နှင့်ပတ်သက်သော မြေခွန်ကိုပေးဆောင်ရန်။

## ၉။ အငြင်းပွားမှုဖြေရှင်းခြင်း

၉.၁ အကယ်၍ မြေငှားရမ်းခြင်းသဘောတူစာချုပ်ပါ အချက်အလက်များနှင့်ပတ်သက်ပြီး အကောင်အထည်ဖော်ဆောင်ရွက်ရာတွင်ဖြစ်စေ၊အဓိပ္ပါယ်လွဲမှားမှုကြောင့်ဖြစ်စေ၊ အငြင်းပွားမှုများဖြစ်ပေါ်လာပါက စာချုပ်လက်မှတ်ရေးထိုးထားသော နှစ်ဦးနှစ်ဖက်စလုံးမှ

ညှိနှိုင်းဆွေးနွေးခြင်းဖြင့်အငြင်းပွားမှုများကို ပြေလည်ငြိမ်းအေးစေနိုင်သည်။ နှစ်ဦးနှစ်ဖက်စလုံးမှအကျေအလည်ညှိနှိုင်းဆွေးနွေး၍မရခဲ့ပါမူ မြန်မာနိုင်ငံအတွင်း၌ နှစ်ဦးနှစ်ဖက်အတွက်ခုံသမာဓိလူကြီး တစ်ဦးစီခန့်ထားညှိနှိုင်းဆွေးနွေးနိုင်ခွင့်ရှိသည်။ နှစ်ဦးနှစ်ဘက်မှတင်မြှောက်ထားသော ခုံသမာဓိလူကြီးများမှ အငြင်းပွားမှုများကို ပြေလည်အောင်ဖြေရှင်းနိုင်ခွင့်မရှိပါက အဆိုပါ ခုံသမာဓိလူကြီးများသဘောတူသော ခုံသမာဓိလူကြီး၏အဆုံးအဖြတ်ကို လက်ခံကြရမည်။ ၎င်းခုံသမာဓိလူကြီး၏အဆုံးအဖြတ်မှာ အနုညာတစီရင်ဆုံးဖြတ်ခြင်းအက်ဥပဒေ (၁၉၄၄ခုနှစ် မြန်မာနိုင်ငံအက်ဥပဒေ အမှတ်-၄)အရဖြစ်ရပါမည်။ ခုံသမာဓိအဖွဲ့၏ဖြေရှင်းဆုံးဖြတ်ရန်နေရာမှာ ရန်ကုန်မြို့ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ဖြစ်ရပါမည်။ ခုံသမာဓိရုံး၏ ကုန်ကျစရိတ်များကိုအမှုရှုံးသည့်ဘက်မှကျခံပေးဆောင်ရမည်။

**၁၀။ မလွှဲမရှောင်နိုင်သည့်ဖြစ်ရပ်များ**

၁၀. ၁ မလွှဲမရှောင်နိုင်သည့်ဖြစ်ရပ်များနှင့်စပ်လျဉ်း၍ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ လေမုန်တိုင်း ကျရောက်ခြင်း၊ စစ်မက်ဖြစ်ပွားခြင်း၊ မြေငလျှင်တုန်ခြင်း၊ သပိတ်မှောက်ခြင်း၊ ပိတ်ဆို့မှုရုန်းရင်းဆန်ခတ်မှုအစရှိသောအစိုးမရနိုင်သည့် ဖြစ်ရပ်များနှင့် သဘာဝဘေး အန္တရာယ်များ ကြောင့်တစ်ဖက်ဖက်မှ ဤစာချုပ်ပါတာဝန်များကိုထမ်းဆောင်ရန်ပျက်ကွက်ပါက၎င်းအပေါ်တွင်မည်သည့်တာဝန်မှမရှိစေရ၊ သို့ရာတွင် အဆိုပါမလွှဲမရှောင်သည့်ဖြစ်ရပ်ပေါ်ပေါက်ခြင်းကို ဖြစ်ပေါ်လာသည့် အချိန်မှ(၁၄)ရက်အတွင်းအခြား တစ်ဖက်သို့စာဖြင့်အပြည့်အစုံ အကြောင်း ကြားရမည်။ ထိုသို့မလွှဲမရှောင်သာသည့် ဖြစ်ရပ်ဖြစ်ပွားသည့်ဖက်မှထမ်းဆောင်ရမည့်တာဝန်များကိုထိုဖြစ်ပွားနေသမျှကာလပါတ်လုံးတစ်ဖက်သဘောတူညီချက်ဖြင့် စွမ်းဆောင်ရွက်ခြင်းမှရပ်ဆိုင်းခွင့်ရှိစေရမည်။ သို့ရာတွင်ထိုဖြစ်ပွားသည့်ကာလကျော်လွန်ခြင်းမရှိစေရ။ ထို့ပြင်ဖြစ်ပွားသောမလွှဲမရှောင်သာသောဖြစ်ရပ်ကြောင့်နှောင့်နှေးကြန့်ကြာမှုကြောင့်နှစ်ဦးနှစ်ဖက်မည့်သည့်တာဝန်မှမရှိ စေရ။

**၁၁။ စာချုပ်အတည်ဖြစ်ခြင်း**

၁၁. ၁ ဤစာချုပ်သည် အငှားချထားသူနှင့်အငှားချထားခြင်းခံရသူ တို့လက်မှတ်ရေးထိုးပြီးသည့်နေ့မှစ၍ အတည်ဖြစ်သည်။

## ၁၂။ စာချုပ်ပြင်ဆင်ခြင်း

၁၂. ၁ စာချုပ်ပြင်ဆင်ခြင်းကိစ္စနှင့်စပ်လျဉ်း၍ ဤစာချုပ်ပါစည်းကမ်းချက်များကို ပြင်ဆင်ခြင်း ပြောင်း လဲခြင်းနှင့်ထပ်မံဖြည့်စွက်ခြင်းပြုလုပ်ပါက အငှားချထားသူနှင့် အငှားချထားခြင်း ခံရသူတို့၏ နှစ်ဦးနှစ်ဘက်တရားဝင်စာဖြင့်သဘောတူညီချက်အရသာပြုလုပ်နိုင်သည်။ စာချုပ်ပြင်ဆင်ခြင်း နှင့်စပ်လျဉ်း၍မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက် ရရှိမှသာအကျိုးသက်ရောက်စေရမည်။

## ၁၃။ စာချုပ်ရပ်စဲခြင်း

၁၃. ၁ စာချုပ်ရပ်စဲခြင်းနှင့် စပ်လျဉ်း၍ဤစာချုပ်ကို အောက်ပါအကြောင်းရပ်များတစ်ခုခုဖြစ် ပေါ်ပါကစာချုပ်ကိုရပ်စဲခွင့်ရှိသည်။

(၁) လုပ်ငန်းတွင်ကြီးမားစွာဆက်တိုက် အရှုံးပေါ်ပေါက်နေခြင်း၊

(၂) ပဋိညာဉ်စာချုပ်ဝင်တစ်ဖက်ဖက်မှစာချုပ်ပါတာဝန်များဆောင်ရွက်ရန် ပျက်ကွက်ခြင်း၊

(၃) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုနိုင်သောဖြစ်ရပ်များ (၆)လ ထက်ပို၍ဖြစ်ပေါ်လာခြင်း၊

(၄) လုပ်ငန်း၏မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်းမရှိခြင်း၊

၁၃. ၂ စာချုပ်ရပ်စဲလိုပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏သဘောတူ တည်ပြုချက်နှင့် အညီစာချုပ်ရပ်စဲနိုင်ခွင့်ရှိသည်။

## ၁၄။ လွှမ်းမိုးသောဥပဒေနှင့်စီရင်ပိုင်ခွင့်

၁၄. ၁ ဤသဘောတူညီချက်သည် မြန်မာနိုင်ငံဥပဒေများနှင့်အညီ အကောင်အထည်ဖော်ဆောင် ရွက်ခြင်းဖြစ်ပြီး၊ ဤသဘောတူညီချက်ကိုလွှမ်းမိုးသောဥပဒေသည် မြန်မာနိုင်ငံဥပဒေများ ဖြစ်သည်။ ဤစာချုပ်ပါနှစ်ဦးနှစ်ဖက်စလုံးသည်စီရင်ပိုင်ခွင့်ရှိသောသက်ဆိုင်ရာတရားရုံး နှင့်အယူခံမှုများကိုကြားနာနိုင်သောတရားရုံးအားလုံး၏စီရင်ပိုင်ခွင့်ကိုလက်ခံကြပါသည်။

## ၁၅။ ပြန်လည်ညှိနှိုင်းခြင်း

၁၅. ၁ ဤစာချုပ်တွင်ဖော်ပြပါရှိသော အချက်အလက်များသည် လက်တွေ့တွင်ဆောင်ရွက်ရန် အခြေအနေ မရှိသောအခါနှစ်ဦးနှစ်ဘက်တို့သည် လိုအပ်သောပြင်ဆင်ချက်များပြုလုပ် နိုင်ခွင့်ရှိစေရမည် ဖြစ်သည်။

၁၆။ **ဘာသာစကား**

ဤမြေငှားသဘောတူစာချုပ်ကိုပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့်အညီမြန်မာဘာသာဖြင့်စာချုပ်သုံးစောင်ရေးသားပြီးလျှင် စာချုပ်နှစ်စုံကိုနှစ်ဦးနှစ်ဖက်မှတစ်စုံစီရယူထားပြီး ကျန်သောစာချုပ်တစ်စုံကို သက်ဆိုင်ရာအာဏာပိုင်အဖွဲ့အစည်းထံသို့ပေး ပို့၍ စစ်ဆေးခြင်းနှင့်အတည်ပြုချက်များ ရယူနိုင်ရန်ပေးပို့ရမည်။

၁၇။ **အကြောင်းကြားစာ**

ဤသဘောတူစာချုပ်နှင့် ပါတ်သက်၍ အကြောင်းကြားစာနှင့်အခြားဆက်သွယ်မှုများအား အောက်ဖော်ပြပါလိပ်စာများအတိုင်း မြန်မာဘာသာဖြင့်ရေးသားပြီးလျှင်စာတိုက်မှမှတ်ပုံတင်ချောစာဖြင့်ဖြစ်စေသို့မဟုတ်တဲလက်စ်ဖြင့်ဖြစ်စေ၊ ဖက်စ်ဖြင့်ဖြစ်စေနှစ်ဦးနှစ်ဖက်ဆက်သွယ်ပေးပို့ရမည်။ ထိုသို့ဆက်သွယ်ပေးပို့ရာတွင်သဘောတူစာချုပ်ချုပ်ဆိုစဉ်ကလိပ်စာအတိုင်းသော်လည်းကောင်း၊ တက်ဖက်မှအကြောင်းကြားလာသည့်အခြားလိပ်စာဖြင့်သော်လည်းကောင်း ဆက်သွယ်ပေးပို့ရမည်။

**လိပ်စာများမှာ**

| | | |
|---|---|---|
| အငှားချထားသူများ | (၁) အမည် | ဒေါ်ခိုင်ဇော် |
| | (၂) လိပ်စာ | အမှတ် ၄၀၊ အင်းယျားလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်။ |
| | (၃) ဖုံးအမှတ် | ၂၅၂၈၄၅၊ ၂၅၂၈၄၆ |
| အငှားချထားခြင်းခံရသူ | (၁) အမည် | ဒေါ်ရင်ရင်တင့် |
| | (၂) လိပ်စာ | အမှတ်(၈ျ-၉)၊ ဘုရင့်နောင်လမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်။ |
| | (၃) ဖုံးနံပါတ် | ၂၄၄၇၄၈ |

ယခုသို့စာရွက်စာတမ်းများပေးပို့ဆက်သွယ်သည့်အခါတွင်ပေးပို့ခြင်းကို လက်ခံရယူသည့်ဖက်မှလက်ခံရရှိပြီးဖြစ်ကြောင်းအကြောင်း ပြန်ကြားစာရရှိပြီးမှသာလျှင်ပေးပို့ခြင်းကိစ္စပြီးမြောက်ပြီးဖြစ်သည်ဟုအသည်ပြုနိုင်သည်။ အကယ်၍ တစ်ဖက်ဖက်မှလိပ်စာအပြောင်းအလဲရှိပါကစာဖြင့်ရေးသားပြီးအကြောင်းကြားစာကိုပေးပို့ရမည်။

၁၈။ သယံဇာတပစ္စည်းဆိုင်ရာကိစ္စ

၁၈. ၁ ဤသဘောတူစာချုပ်သက်တမ်းအတွင်း မည်သည့်အချိန်တွင်မဆို ယခုအငှားချထားသော မြေပေါ်မြေအောက်မှ မမျှော်လင့်ဘဲရရှိသော သဘာဝအရင်းအမြစ်ပစ္စည်းများသည်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရနှင့်သာသက်ဆိုင်စေရမည်။ ငှားချထားသူအနေဖြင့်သက်ဆိုင်ရာဌာနသို့အကြောင်းကြားတင်ပြပေးရမည် ဖြစ်သည်။

၁၉။ အကျိုးသက်ရောက်မှုများ

၁၉. ၁ ဤသဘောတူစာချုပ်သည် ဤစာချုပ်ကို အကောင်အထည်ဖော်ရန်အတွက်ပြည်ထောင်စုမြန်မာနိုင်ငံ၏ သက်ဆိုင်ရာအစိုးရအာဏာပိုင်မှ လိုအပ်သောခွင့်ပြုချက်ရရှိမှသာအကျိုးသက်ရောက်မှုရှိမည်ဖြစ်သည်။

၂၀။ နောက်ဆက်တွဲစာရွက်စာတမ်းများ၏သက်ဆိုင်မှု

၁၈. ၁ ဤစာချုပ်တွင် ပူးတွဲပါရှိသောနောက်ဆက်တွဲစာရွက်စာတမ်းများနှင့်မြေပုံသည်ဤစာချုပ်၏တစ်စိတ်တစ်ဒေသ ဖြစ်သည်။

ဤစာချုပ်ပါစကားရပ်များနှင့် အကြောင်းအရာများတို့ကို ချုပ်ဆိုသူနှစ်ဦးနှစ်ဖက်တို့ကဖတ်ရှုကြပြီး နားလည်သဘောပေါက်လက်ခံကြသည်။ အောက်ဖော်ပြပါသက်သေများရှေ့မှောက်တွင်အထက်ဖော်ပြထားသော နေ့ရက်၌ လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

| | |
|---|---|
| မြေငှားချထားသူ | အငှားချထားခြင်းခံရသူကိုယ်စား<br>အပ်(သ်) အင်ဒတ်(စ်)ထရီရယ်(လ်)<br>(မြန်မာ) ကုမ္ပဏီ လီမိတက် |
| ဒေါ်ခိုင်ဇော်<br>ဘီ/အာဂျီအင်န်<br>၀၂၄၄၉၇ | ဒေါ်ရင်ရင်တင့်<br>ဒါရိုက်တာ<br>အပ်(သ်) အင်ဒတ်(စ်)ထရီရယ်(လ်)<br>(မြန်မာ) ကုမ္ပဏီ လီမိတက် |

ငါးထောင်ကျပ် FIVE THOUSAND KYATS 5000 TWO HUNDRED KYATS




# မြေငှားစာချုပ်

## မူရင်း

15 MAY 1998

၁၉၉၈ ခုနှစ်၊ (မြေငှား) အမှတ်တွဲ အမှတ် [illegible] အရ ထုတ်ပေးသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန (နောင်တွင် "အငှားချထားသူ" ဟု ရည်ညွှန်းသည်။ "အငှားချထားသူ" ဆိုသည့် စကားရပ်တွင် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် အဆိုပါဌာနကို ဆက်ခံသူများ၊ အဆိုပါဌာနက လွှဲအပ်သူများလည်း ပါဝင်သည်။ )

နှင့် [illegible] မြို့နေ၊ ဦး [illegible] ၏၊ သား/သမီး ဖြစ်သော ဦး/ဒေါ် [illegible] အမျိုးသားမှတ်ပုံတင်အမှတ် [illegible] (နောက်တွင် "အငှား စာချုပ်ရသူ" ဟု ရည်ညွှန်းသည်။ ) တို့၊ ၁၃၆၀ ခုနှစ်၊ ကဆုန် လဆန်း/လပြည့်ကျော် ၅ ရက်နေ့၊ ၁၉၉၈ ခုနှစ်၊ ( မေ လ ၁၅ ရက်) တွင် အောက်ပါအတိုင်း မြေငှားစာချုပ်-ချုပ်ဆိုကြသည်။

အငှား စာချုပ်သူက-နောက်တွင် သတ်မှတ်ထားသည့် မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့် လည်းကောင်း၊ နောက်တွင်ပါရှိသော ပဋိညာဉ်ခံချက်များကို ပြုသောကြောင့်လည်းကောင်း၊ အောက်ပါဇယား၌ ဖော်ပြထားသော မြေကွက်အားလုံးကိုထိုမြေကွက်နှင့် သက်ဆိုင်သော ပိုင်ဆိုင်ခွင့်များ၊ ဝင်-ထွက် သွားလာနိုင်ခွင့် စသော သက်သာခွင့်များနှင့် အခြားအခွင့်အရေးများနှင့်တကွအငှားချထားသူက အငှားစာချုပ်ရသူအား ဤစာချုပ်ဖြင့် အငှားချထား သည်။ အဆိုပါမြေကွက်အတွင်း မြေပေါ်မြေအောက်ရှိ သတ္တုတွင်းများ၊ တတ်သတ္တုပစ္စည်းများ၊ မြေမြှုပ်အလွှာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကွာရီ (Quarries) သည်တို့သည်ဤစာချုပ်ဖြင့် အငှားချထားခြင်း၌ မပါဝင်ချေ။ ထိုသို့ ရှာဖွေတူးဖော်ရယူ၊ သယ်ဆောင်ရာ၌ အဆိုပါမြေကွက်၏ မျက်နှာပြင်ကို နှောက်ယှက်ပျက်စီးစေခဲ့လျှင်၊ အငှားစာချုပ်ရသူအားသင့်တော်သော လျော်ကြေးကို အငှားချထားသူက ပေးရမည်။ ထိုလျော်ကြေးနှင့် စပ်လျဉ်း၍ အငြင်းပွားမှုများခဲ့သော် လျော်ကြေးကို ကည်းအဲမြေ.ပိမ်း အက်ဥပဒေ၏ သို့တည်းမဟုတ် စည်းမျဉ်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့် အညီပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်က ဆုံးဖြတ်ရမည်။

တို့ကြောင့် ဤစာချုပ်-ချုပ်ဆိုသည့် ၁၅.၅.၉၈ နေ့မှစ၍ နှစ်ပေါင်း ခြောက်ဆယ်ကာလ အပိုင်းအခြားအတွက် လက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါမြေကွက်ကို အငှားချထားသည်။

နှစ်ပေါင်း ခြောက်ဆယ် မြေငှားစာချုပ် ကာလအပိုင်းအခြားတွင် ၂၀၁၃ ခုနှစ် ၊ မေ လ ၁၄ ရက်နေ့၌ကုန်ဆုံးသည့် ပထမ တစ်ဆယ့်ငါးနှစ်အတွင်းတွင် ကျပ် [illegible] ပြား - ( [illegible] ) တိတိကို ဇန်နဝါရီလ ၁-ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဇန်နဝါရီလ ၁-ရက်နေ့တွင် လည်းကောင်း ၊ ဧပြီလ ၁-ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဧပြီ ၁-ရက်နေ့တွင် လည်းကောင်း ၊ ဇူလိုင်လ ၁-ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဇူလိုင်လ ၁-ရက်နေ့တွင် လည်းကောင်း၊ အောက်တိုဘာလ ၁-ရက်နေ့မှစသည့် သုံးလပတ်အတွက် အောက်တိုဘာလ ၁-ရက်နေ့တွင်လည်းကောင်း ကြိုတင် ပေးဆောင်ရမည်။ အဆိုပါ နှစ်ခြောက်ဆယ်ကာလ အပိုင်းအခြား၏ ဒုတိယ တစ်ဆယ့်ငါးနှစ်နှင့်တတိယတစ်ဆယ့်ငါးနှစ်၊ စတုတ္ထတစ်ဆယ့်ငါးနှစ်အတွက် အပိုဒ် ၃-တွင် ပြဋ္ဌာန်းထားသည့် နည်းလမ်းအတိုင်း အငှားချထားသူအား သတ်မှတ်သည့် မြေငှားခများကို အငှားစာချုပ်ရသူက ပေးဆောင် ရမည်။

[illegible]

FIVE THOUSAND KYATS　TWO HUNDRED KYATS




# မြေငှားစာချုပ်

## မူရင်း

15 MAY 1998

၁၉၉၈ ခုနှစ်၊ (မြေငှား) အမှတ်စဉ် ဒ(ဂ)စက်မှု ၁၁၅၈၃/၉၈ အရ ထုတ်ပေးသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန (နောင်တွင် "အငှားချထားသူ"ဟု ရည်ညွှန်းသည်။ "အငှားချထားသူ" ဆိုသည့်စကားရပ်တွင် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် အဆိုပါဌာနကို ဆက်ခံသူများ၊ အဆိုပါဌာနက လွှဲအပ်သူများလည်း ပါဝင်သည်။ )

နှင့် ရန်ကုန် မြို့နေ ဦး ဖော်ဒုတ် ၏ သား/သမီး ဖြစ်သော ဦး/ဒေါ် ခိုင်ဇော် အမျိုးသားမှတ်ပုံတင်အမှတ် ၉/ရဂလ ၀၂၃၄၉၇ (နောက်တွင် "အငှား စာချုပ်ရသူ" ဟု ရည်ညွှန်းသည်။ ) တို့၊ ၁၃၆၀ ခုနှစ်၊ ကဆုန် လဆန်း/လပြည့်ကျော် ၅ ရက်နေ့၊ ၁၉၉၈ ခုနှစ်၊ ( မေ လ ၁၁ ရက်) တွင် အောက်ပါအတိုင်း မြေငှားစာချုပ်–ချုပ်ဆိုကြသည်။

အငှား စာချုပ်သူက–နောက်တွင် သတ်မှတ်ထားသည့် မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့် လည်းကောင်း၊ နောက်တွင်ပါရှိသော ပဋိညာဉ်ခံချက်များကို ပြုသောကြောင့်လည်းကောင်း၊ အောက်ပါဇယား၌ ဖော်ပြထားသော မြေကွက်အားလုံးကိုထိုမြေကွက်နှင့် သက်ဆိုင်သော ပိုင်ဆိုင်ခွင့်များ၊ ဝင်–ထွက် သွားလာနိုင်ခွင့် စသော သက်သာခွင့်များနှင့် အခြားအခွင့်အရေးများနှင့်တကွအငှားချထားသူက အငှားစာချုပ်ရသူအား ဤစာချုပ်ဖြင့် အငှားချထားသည်။ အဆိုပါမြေကွက်အတွင်း မြေပေါ်မြေအောက်ရှိ သတ္တုတွင်းများ၊ ဓာတ်သတ္တုပစ္စည်းများ၊ မြေမြှုပ်အရှုများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကျောက်ရိ (Quarries) သည်တို့သည်ဤစာချုပ်ဖြင့် အငှားချထားခြင်း၌ မပါဝင်ချေ။ ထိုသို့ရှာဖွေတူးဖော်ရယူ၊ သယ်ဆောင်ရာ၌ အဆိုပါမြေကွက်၏ မျက်နှာပြင်ကိုနောက်ယှက်ပျက်စီးစေခဲ့လျှင်၊ အငှားစာချုပ်ရသူအားသင့်တော်သော လျော်ကြေးကို အငှားချထားသူက ပေးရမည်။ ထိုလျော်ကြေးနှင့် စပ်လျဉ်း၍ အငြင်းဖြစ်ပွားခဲ့သော် လျော်ကြေးကို ကညီအဲမြေ...ပိုင်း အက်ဥပဒေ၏ သို့တည်းမဟုတ် စည်းမျဉ်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့် သည်ညီပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်က ဆုံးဖြတ်ရမည်။

တို့ကြောင့် ဤစာချုပ်–ချုပ်ဆိုသည့် ၁၁. ၅ .၉၈ နေ့မှစ၍ နှစ်ပေါင်း ခြောက်ဆယ်ကာလ အပိုင်းအခြားအတွက် လက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါမြေကွက်ကို အငှားချထားသည်။

နှစ်ပေါင်း ခြောက်ဆယ် မြေငှားစာချုပ် ကာလအပိုင်းအခြားတွင် ၂၀၃၃ ခုနှစ် ၊ မေ လ ၁၀ ရက်နေ့၌ကုန်ဆုံးသည့် ပထမ တစ်ဆယ့်ငါးနှစ်အတွင်းတွင် ကျပ် ၂၆၁၀၀ ပြား – ( ကျပ်နှစ်သောင်း ခြောက်ထောင့် တစ်ရာ တိတိ ) တိတိကို ဇန်နဝါရီလ ၁–ရက်နေ့မှ စသည့် သုံးလပတ်အတွက် ဇန်နဝါရီလ ၁–ရက်နေ့တွင် လည်းကောင်း၊ ဧပြီလ ၁–ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဧပြီ ၁–ရက်နေ့တွင် လည်းကောင်း၊ ဇူလိုင်လ ၁–ရက်နေ့မှ စသည့် သုံးလပတ်အတွက် ဇူလိုင်လ ၁–ရက်နေ့တွင် လည်းကောင်း၊ အောက်တိုဘာလ ၁–ရက်နေ့မှစသည့် သုံးလပတ်အတွက် အောက်တိုဘာလ ၁–ရက်နေ့တွင်လည်းကောင်း ကြိုတင် ပေးဆောင်ရမည်။ အဆိုပါနှစ်ခြောက်ဆယ်ကာလအပိုင်းအခြား၏ ဒုတိယတစ်ဆယ့်ငါးနှစ်နှင့်တတိယတစ်ဆယ့်ငါးနှစ်၊ စတုတ္ထတစ်ဆယ့်ငါးနှစ်အတွက်အပိုဒ် ၃–တွင် ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း အငှားချထားသူအား သတ်မှတ်သည့်မြေငှားခများကို အငှားစာချုပ်ရသူက ပေးဆောင်ရမည်။

[illegible]

၁။ အငှားစာချုပ်ရသူသည် အငှားချထားသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အထက်၌ မြေငှားခကိုပေးဆောင်ရန် သတ်မှတ်ထားသည့် နေ့ရက်များတွင် သတ်မှတ်ထားသည့် နည်းလမ်းအတိုင်း အဆိုပါမြေငှားခနှင့် အဆိုပါမြေကွက်ပေါ်၌လည်းကောင်း၊ ထိုမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အအုံပေါ်၌သော်လည်းကောင်း၊ အငှားစာချုပ်ရသူအပေါ်၌လည်းကောင်း အဆိုပါ နှစ်ခြောက်ဆယ့် ကာလအပိုင်းအခြားအတွင်း စည်းကြပ်ဆဲ စည်းကြပ်လတ္တံ့ ဖြစ်သော အခွန်အတုတ်အားလုံးကို ပေးဆောင်ရန်။

(ခ) ဤစာချုပ်ချုပ်ဆိုသည့်နေ့မှ ၆–လအတွင်း စတင်ဆောက်လုပ်၍ နှစ်နှစ်အတွင်း အဆိုပါမြေကွက်ပေါ်၌ ကောင်းမွန်ခိုင်ခံ့သော လူနေအိမ်၊ ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေများနှင့် အညီ၊ ပြီးစီးအောင်ဆောက်လုပ်ရန်နှင့် ထိုလူနေအိမ်စသည်တို့ကို အဆိုပါနှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြားအတွင်း ပြုပြင်မွမ်းမံထားရှိရန်။

(ဂ) အဆိုပါမြေကွက်တည်ရှိသော ရပ်ကွက်၌သက်ဆိုင်ရာဒေသန္တရအာဏာပိုင်များက မိလ္လာပိုက်နှင့် ရေပိုက်များ ချထားလျှင်၊ ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေနှင့်အညီ အဆိုပါမြေကွက်ပေါ်၌ ဆောက်လုပ်ထားသော အဆောက်အအုံများကို ထိုမိလ္လာပိုက်၊ ရေပိုက်များနှင့် ဆက်သွယ်ရန်။

(ဃ) သက်ဆိုင်သော ဒေသန္တရအာဏာပိုင်က ခွင့်ပြုသော အဆောင်ခွဲနှင့် အလုပ်သမားတန်းလျားများမှအပ အဆိုပါမြေကွက်ပေါ်၌ အဆောက်အအုံတစ်ခုထက်ပို၍ မဆောက်လုပ်ရန်။

(င) အငှားချထားသူ၏ စာဖြင့် သဘောတူညီချက်ကို ကြိုတင်မရရှိဘဲ၊ နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြားအတွင်း အဆိုပါမြေကွက်ကို လူနေအိမ်ဆောက်လုပ်ရန်အတွက် မှတစ်ပါး၊ အခြားကိစ္စအတွက် အသုံးမပြုရန်နှင့် အဆိုပါမြေကွက်ပေါ်တွင် ဆောက်လုပ်သည့် လူနေအိမ်ကို လူနေအိမ်အဖြစ်မှ တစ်ပါး အခြားနည်း အသုံးမပြုရန်။

(စ) အငှားချထားသူ၏ စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ၊ စာချုပ်ပါမြေကို ခွဲခြမ်းခြင်းမပြုရသည့်ပြင် ၎င်းမြေတစ်စိတ်တစ်ဒေသကိုလည်း လွှဲပြောင်းခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း၊ လက်လွှတ်ခြင်းများမပြုလုပ်ရ။

(ဆ) ဤစာချုပ်နှင့်စပ်လျဉ်း၍ မည်သည့်ကိစ္စအတွက်မဆို၊ အဆိုပါမြေကွက်သို့ဖြစ်စေ၊ အဆိုပါမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသောအဆောက်အအုံသို့ဖြစ်စေ၊ နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြားတွင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးစီးဌာန ညွှန်ကြားရေးမှူးချုပ်၏ အမိန့်အရ ဆောင်ရွက်သူများအား နေ့ခင်းသင့်တော်သည့် အချိန်များတွင် ဝင်ရောက်ခွင့်ပြုရန်။

(ဇ) ဤစာချုပ်အရ အငှားချထားသည့် နှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြား ကုန်ဆုံးသောအခါ အဆိုပါမြေကွက်တည်ရှိသည့် အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွဲကပ်ထားသော ပစ္စည်းမပါဝင်စေဘဲ၊ အဆိုပါမြေကွက်ကို အငှားချထားသူအား အေးဆေးစွာပြန်လည်ပေးအပ်ရန်။ သို့ရာတွင် အငှားချထားသူက အပိုဒ် ၂–အရ အဆိုပါမြေကွက်ကို ပြန်လည်သိမ်းယူပြီး စာချုပ်ကိုရပ်စဲလျှင် အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင်တည်ရှိသည့် အဆောက်အအုံ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသောပစ္စည်းများကို အငှားစာချုပ်ရသူက အငှားချထားသူအား အေးဆေးစွာ ပြန်လည်ပေးအပ်ရန်။

# အပိုပဋိညာဉ်ခံချက်များ

ဖော်ပြပါ မြေငှားခနှုန်းသည် ယာယီမျှသာဖြစ်၍ ၁၉၉၈ ခုနှစ် အတွင်းတွင် ဖြစ်စေ ထိုနောက် အချိန်ကာလတွင် ပြန်လည်ပြင်ဆင်သင့်က ပြင်ဆင်စည်းကြပ်ရန် ဖြစ်သည်။

၂။ အဆိုပါ မြေငှားခကို တောင်းဆိုသည်ဖြစ်စေ၊ မတောင်းဆိုသည်ဖြစ်စေ၊ ကြိုတင်ပေးဆောင်ရမည့် သုံးလပတ်အတွက် မြေငှားခကို သို့တည်းမဟုတ် ၎င်း၏ အစိတ်အပိုင်းကို ထိုသုံးလပတ်၏ ဒုတိယလ ဦးပိုင်းတွင် မပေးဆောင်သဖြင့် မြေငှားခ မပေးကျန်ရှိလျှင် သို့တည်းမဟုတ် အငှားစာချုပ်ရသူသည် အထက်တွင် ဖော်ပြပါရှိသည့် ပဋိညာဉ်ခံချက်များ အတိုင်း လိုက်နာဆောင်ရွက် ရန် ပျက်ကွက်လျှင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်သည် အဆိုပါ မြေငှားခကို ရယူရန် ချက်ချင်း အမှုဖွင့်နိုင်သည်။ ထို့ပြင် သို့တည်းမဟုတ် ယခင်က ပဋိညာဉ်ခံ ချက်ပျက်ကွက်ခြင်းအတွက် အရေးယူပိုင်ခွင့်ကိုဖြစ်စေ၊ အဆိုပါမြေကွက်ပြန်လည်သိမ်းယူနိုင်ခွင့်ကို ဖြစ်စေ စွန့်လွှတ်ခဲ့စေကာမူ ဤစာချုပ်ကို ပယ်ဖျက်၍ အဆိုပါ မြေကွက်နှင့် ထိုမြေကွက်ပေါ်တွင် တည်ရှိသော အဆောက်အအုံများ၊ ထိုဆောက်အအုံများနှင့် အမြဲကွယ် ကပ်ထားသော ပစ္စည်းများကို သိမ်းယူနိုင်သည်။

ဤစာချုပ်ပါစကားရပ်များကို သိရှိနားလည်ကြပြီးဖြစ်သဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့် ညွှန်ကြားရေးမှူးတို့ရှေ့တွင် ဦးစီးဌာနတံဆိပ်ကိုခပ်နှိပ်၍ အဆိုပါညွှန်ကြားရေးမှူးချုပ်နှင့်အဆိုပါ ဒေါ်ခိုင်ဇာဝင်းကျော် သည် ဤစာချုပ်ကိုအထက်၌ဖော်ပြခဲ့သည့်နေ့တွင် လက်မှတ် ရေးထိုးကြကြောင်း။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန

မြို့ - ရန်ကုန်



တံဆိပ်ကို ညွှန်ကြားရေးမှူးချုပ် ဦးအုန်းကျော်

ညွှန်ကြားရေးမှူးချုပ်

ဒုတိယညွှန်ကြားရေးမှူးချုပ်

ဒုတိယညွှန်ကြားရေးမှူးချုပ်

နှင့် ညွှန်ကြားရေးမှူး ဦးတင်ဝင်း တို့
ရှေ့မှောက်၌ ခပ်နှိပ်၍ အဆိုပါ
ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့်
ညွှန်ကြားရေးမှူးတို့လက်မှတ် ရေးထိုးသည်။

ညွှန်ကြားရေးမှူး

အသိသက်သေ။

ဒုတိယညွှန်ကြားရေးမှူး (မြေနှင့်အခွန်) ဦးကျော်ဝင်း

အငှားစာချုပ်ရသူ ဒေါ်ခိုင်ဇာဝင်းကျော် က
လက်မှတ်ရေးထိုးသည်။

အငှားစာချုပ်ရသူ

အသိသက်သေ။

၁။ ကျော်ဇေယျဦး ၉ပဗ ၂၃၇၈၃၇

၂။ (အောင်မိုးဝင်း)

ဖြစ်ထောက်ညွှန်ကြားရေးမှူး မြေနှင့်အခွန် ဌာနခွဲ အထက်တွင် ရည်ညွှန်းထားသည့် ဖယား
ခွင့်ပြုပြီးမြေပုံဖြစ်သော လူနေရပ်ကွက်အမှတ် ____
မြေတိုင်းရပ်ကွက်အမှတ် ၂၃
ရန်ကုန်မြို့ ဒဂုံ (တောင်ပိုင်း) မြို့နယ်။
အတွင်းရှိ ____ တန်းစား၊ မြေကွက်အမှတ် ၄၇၅
ဖြစ်သည်။ ပူးတွဲပါ မြေပုံ၌ မင်နီဖြင့် ပြထားသော အလျား ၈၁၀×၁၁၀ ပေ၊ အနံ ၆၄၀×၁၁၅ ပေခန့်ရှိသော အလား အလာ
အရှေ့လားသော် လမ်း ၂
အနောက်လားသော် လမ်း ၂
တောင်လားသော် လမ်း
မြောက်လားသော် လမ်း
အတွင်းရှိ မြေအားလုံး ဧရိယာ ၂၃.၈၄၁ ဧက၊ (စတုရန်းပေ ၁၀၃၈၅၀၀)



15 MAY 1998

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အပိုဒ် ၂–အရ၊ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိ သင့်လျော်သည်ဟု ထင်မြင်သည့်
နည်းလမ်းအတိုင်း အငှားဂရန် ရသူ၏ နောက်ဆုံး သိရှိရသော လိပ်စာတပ်ပြီး ရေစစ္စတြီပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်။
သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍
လူအများမြင်သာသောနေရာတွင် ကပ်ထားနိုင်သည်။ အဆိုပါ နို့တစ်စာကိုပြဆိုသည့်နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်း
ပြုလုပ်ပြီးနောက် ရက်ပေါင်း ခြောက်ဆယ်အတွင်း အငှားစာချုပ် ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပြေကျန်ရှိနေသေးသော
မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို
ပြန်လည် အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ် အားလုံးနှင့်တကွ အဆိုပါ ညွှန်ကြားရေးမှူးချုပ်သို့
ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ပျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက်စေရန်
အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင် လည်းကောင်း အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်
ခံချက်များအတိုင်း နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည်
သိမ်းယူသည့်အချိန်တွင် ထိုမြေကွက်ပေါ်၌တည်ရှိနေသော အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို
လက်ရှိ ထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်။ သို့ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြား အကြောင်း
ခုခုကြောင့်သော်လည်းကောင်း ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော
ည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူ သည့်အခါက
ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ အမှုထမ်းများသို့တည်းမဟုတ်
ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်ဆီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတစ်ပါး အဆိုပါမြေကွက် ပေါ်တွင် ဖြစ်စေ၊
အထဲတွင်ဖြစ်စေ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏ တန်ဖိုးယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ်
ပျက်ဆီးယိုယွင်းခြင်းအတွက်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၌
တာဝန်မရှိစေရန်။

(ခ) အပိုဒ် ၂–အရ၊ ဤစာချုပ်ကိုပယ်ဖျက်ပြီး မဟုတ်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူကနှစ်ပေါင်းခြောက်ဆယ်
ကာလအပိုင်းအခြား ကုန်ဆုံးသည်အထိ အဆိုပါမြေငှားခကိုပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါမိမိပြုလုပ်သည့် ပဋိညာဉ်ခံ
ချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ်
ထားသောအဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန် မီ
ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူ ခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့ သယ်ယူခြင်းကြောင့် အဆိုပါမြေကွက်ပျက်စီးယိုယွင်းခဲ့ လျှင်
ထိုမြေကွက်ကိုမူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) ( ၂၀၀၃ )ခုနှစ်၊ မေ လ၊ ( ၂၄ )ရက်နေ့မှစ၍ ပထမတဆယ့်ငါးနှစ် ကုန်ဆုံး
သည့်အခါ ဒုတိယတဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄–အရ စည်းကြပ်သော သုံးလပတ်မြေငှားခကို
လည်းကောင်း၊ ဒုတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ တတိယတဆယ့်ငါးနှစ်အတွက် အဆိုပါ နည်းဥပဒေ ၂၄–အရ စည်းကြပ်သော
သုံးလပတ်မြေငှားခကိုလည်းကောင်း၊ တတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ စတုတ္ထတဆယ့် ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄–
အရ စည်းကြပ်သောသုံးလပတ်မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်။ အကယ်၍
အထက်ပါနည်းလမ်းအတိုင်း မြေငှားခကိုပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင်ပြဋ္ဌာန်းထား
သည့်နည်းလမ်းအတိုင်း မြေငှားခကိုပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲသုံးလပတ်မြေငှားခကို ဆက်လက်ပေး
ဆောင်ရန်။

(ဃ) ဤစာချုပ်ပါအခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင်ပါရှိစေကာမူ ဤစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍
ပထမနှစ်ပေါင်းသုံးဆယ်အတွင်းသတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောမြေငှားခကို ပြေလည်အောင် ပေး
ဆောင်ခဲ့သောကြောင့် လည်းကောင်း၊ ပြုလုပ်ထားသည့်ပဋိညာဉ်ခံချက်များကို မပျက်မကွက်လိုက်နာဆောင်ရွက်ခဲ့သောကြောင့်
လည်းကောင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောသုံးလပတ် မြေငှားခဖြင့်နောက်ထပ် နှစ်ပေါင်း
သုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်း မြေငှားစာချုပ် အသစ် ချုပ်ဆိုရန် သဘောတူကြောင်း အဆိုပါ ပထမ
နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံးခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြား
ရမည်။ အကြောင်းကြားစာနှင့်အတူ ပထမမြေငှားစာချုပ်ကိုပေးအပ်လျှင် ထိုအကြောင်းကြားစာရရှိသည့်နေ့မှခြောက်လအတွင်းနောင်
နှစ်ပေါင်းသုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့်ဖြစ်နိုင်သမျှ တူညီသည့် ပဋိညာဉ် ခံချက်များပါရှိသည့်
မြေငှားစာချုပ် အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူကထုတ်ပေးရန်။ အကယ်၍ မြေငှားခကို
သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပတ်မြေငှားခကို
အငှားစာချုပ်ရသူကပေးဆောင်ရန်။




SITE LOCATION PLAN

NOT TO SCALE

| | | |
|---|---|---|
| OWNER/APPLICANT | | |
| PROJECT | | |
| | BLOCK NO | |
| | LOT NO | |
| | | TOWNSHIP |
| SUBJECT | | |
| SCALE | | SHEET NO |
| DATE | | ( ) |
| L.S | | |

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ..........၁၁၅........../၁၉၉၅-၁၉၉၆

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ အ ပ်(သ်) အ င် ဒ တ်(စ်) ယ ရီ ရ ယ်(လ်) ( မြ န် မ ာ) ........ကု....ဓ....ကီ....လီ....မိ....တက်.......အား ပေးရန်တာဝန်ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၁၉ ..၉..၅ နှစ်၊......ဧပြီ........ လ ..၂.၅ ရက်နေ့တွင်မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

( သိင်္ဂီ တင် )

ကုမ္ပဏီများမှတ်ပုံတင်အရာရှိ

ကုမ္ပဏီများမှတ်ပုံတင်ရုံး



**THE GOVERNMENT OF THE UNION OF MYANMAR**
**MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT**

# CERTIFICATE OF INCORPORATION

No. ......115...................... of 1995 - 1996

*I hereby certify that* EARTH INDUSTRIAL(MYANMAR) COMPANY LIMITED ........ *is this day incorporated under the Myanmar Companies Act and that the company is Limited.*

*Given under my hand at Yangon this* ...... TWENTY FIFTH ...... *day of* ...... APRIL ...... *one thousand nine hundred and* ...... NINETY FIVE

(THEINGI TIN)
**Registrar of Joint Stock Companies**
**Companies Registration Office**




EARTH INDUSTRIAL (MYANMAR) CO., LTD.
71, SULE-PAGODA ROAD, YANGON, MYANMAR.
TEL : 95-1-252845, 252846 FAX : 95-1-89580

## အဂ်(သ်)အင်ဒတ်(စ်)ထရီရယ်(လ်)မြန်မာကုမ္ပဏီလီမိတက်

အစည်းအဝေးဖိတ်ကြားသည့်ရက် ။ ၁၁-၁၂-၉၇
အစည်းအဝေးကျင်းပသည့်ရက် ။ ၁-၁-၉၈
အစည်းအဝေးကျင်းပသည့်အချိန် ။ နံနက်(၁၀:၀၀)နာရီ
အစည်းအဝေးကျင်းပသည့်နေရာ ။ ကုမ္ပဏီရုံးခန်း ။

**အစည်းအဝေးတက်ရောက်သူများ**

၁။ ဒေါ်ခိုင်ဇော် .. အုပ်ချုပ်မှုဒါရိုက်တာ
၂။ ဒေါ်ရင်ရင်တင့် ဒါရိုက်တာ

**သာမန်ထက်ထူးကဲသောအစည်းအဝေးဆုံးဖြတ်ချက်**

၁။ အပ်(သ်)အင်ဒတ်(စ်)ထရီရယ်(လ်)(မြန်မာ)ကုမ္ပဏီလီမိတက်သည် ၊ အောက်ပါလုပ်ငန်းများကိုဆောင်ရွက်ရန်အတွက်မတည်ငွေရင်းကိုကျပ် ၂၀၀၀၀၀၀၀ိ/- (ကျပ်သိန်းနှစ်ရာတိတိ) တိုးမြှင့်ရန်နှင့်ကျပ် ၁၀၀၀ိ/- (ကျပ်တစ်ထောင်တိတိ) တန်အစုရှယ်ယာပေါင်း ၂၀,၀၀၀ (နှစ်သောင်း) ခွဲထားရန်သာမန်ထက်ထူးကဲသော အစည်းအဝေးမှဆုံးဖြတ်ပါသည်။

(က) ဒဂုံမြို့သစ်တောင်ပိုင်းစက်မှုလက်မှုဇုန်ဧရိယာတွင်အီလက်ထရောနစ်လျှပ်ကူးပစ္စည်းအစိတ်အပိုင်းများတပ်ဆင်ထုတ်လုပ်သည့်စက်ရုံတည်ဆောက်ခြင်း ။

(ခ) လျှပ်ကူးပစ္စည်းအစိတ်အပိုင်းများတပ်ဆင်ထုတ်လုပ်ခြင်း ။

၂။ ကုမ္ပဏီမှတ်ပုံတင်ရုံးသို့လိုအပ်သောမှတ်ပုံတင်မှုများ ဆောင်ရွက်ရန်သာမန်ထက်ထူးကဲသောအစည်းအဝေး မှဆုံးဖြတ်ပါသည်။

မှတ်တမ်းတင်သူ

(signature)

Managing Director
Earth Industrial (Myanmar) Co., Ltd



# EARTH INDUSTRIAL (MYANMAR) CO., LTD.

71, SULE-PAGODA ROAD, YANGON, MYANMAR.
TEL : 95-1-252845, 252846  FAX : 95-1-89580

Minute of the Extra Ordinary Meeting of
The EARTH INDUSTRIAL (MYANMAR) COMPANY LIMITED.

| | |
|---|---|
| Date of dispatch of notic specifying the intention to propose the resolution as Special Resolution | : 11.12.98 |
| Meeting Date | : 1.1. 99 |
| Time | : 10 Am |
| Place | : 71, Sule-Pagoda Road, Yangon. |
| Attendance | : (1) DAW KHINE ZAW<br>(2) DAW YIN YIN TINT |

Resolutions of the Extra Ordinary Meeting

1. The Extra Ordinary meeting resolved that the authorized capital of the EARTH INDUSTRIAL (MYANMAR) CO., LTD be increased up to K 200,000,000/-(Kyats two hundred million only) divided into 10,000/- (Ten Thousand) share of Kyats 20,000 (Kyats Twenty Thousand only) each for the purpose of carry on the following business of :-

   (A) To construct the factory of Electrical and Electronics component at the South Dagon Industrial State.

   (B) To Manufacture the Electricial and Electronic Components.

2. The Extra Ordinary Meeting resolved to carry out nessary action of registration.

Approved by,

Managing Director
Earth Industrial (Myanmar) Co., Ltd

FORM VI

# RETURN OF ALLOTMENTS
## THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made)
Return of allotment from the 12nd of October 1998
on the 12nd of October 1998 of the *EARTH INDUSTRIAL
Made pursuant to Section 104(1) (MYANMAR) CO. LTD.
Number of the shares allotted payable in cash ..... 800 shares
" " " " .....

Nominal amount of the shares so allotted ..... Ks. 8,000,000/-
" " " " .....
Amount paid or due and payable on each such share .... Ks. 10,000/-
" " " " (Fully paid up)
Number of ordinary shares allotted for a consideration other than cash
Nominal amount of the ordinary shares so allotted ....
Amount to be treated as paid on each such share ....
The consideration for which such share have been allotted is as folllows:-

---

**NOTE:** In making a return of allotments under Section 104(1) the Myanmar Companies Act., it is to be noted that-

1. When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the word made substituted for the word "From" after the word "allotments" above.

Here insert name of Company.
Distinguish between preference, ordinary, or other description of shares.

Presented for filing by: DAW KHINE ZAW (Managing Director)

Names, Address and Description of Allotees

| Name & N.R.C No | Address | Description | Number of Shares Allotted | |
|---|---|---|---|---|
| | | | Preference | Ordinary |
| 1. DAW KHINE ZAW 12/Ma Ya Ka (Naing) 010065 | No.40, Inya Road, Kamayut Township, Yangon. | Merchant | | 750 |
| 2. DAW YIN YIN TINT 12/Ka Ma Ya (Naing) 038092 | No.I(9), Bayintnaung Road, Mayangone T/S Yangon. | Merchant | | 50 |
| | | | | 800 |

| Remark No. | Share | | Description |
|---|---|---|---|
| 1. DAW KHINE ZAW | share 750 @ 10,000 = | 7,500,000 | in land contribuction |
| 2. DAW YIN YIN TINT | share 50 @10,000 = | 500,000 | in cash Contribuction. |

Signature

Date 12.10.98

Managing Director
Earth Industrial (Myanmar) Co., Ltd




**EARTH INDUSTRIAL (MYANMAR) CO., LTD.**
71, SULE-PAGODA ROAD, YANGON, MYANMAR.
TEL : 95-1-252845, 252846 FAX : 95-1-895




သို့

မှတ်ပုံတင်အရာရှိ
ကုမ္ပဏီများ မှတ်ပုံတင်ရုံး
စီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

ရက်စွဲ၊ ၁၉၉၉ ခု၊ ဇန်နဝါရီလ ( ၆ ) ရက်။

အကြောင်းအရာ။ ။ <u>သတ်မှတ်မတည်ငွေရင်း တိုးမြှင့်ခြင်း</u>

၁။ အာ(သ်)အင်ဒတ်(စ်)ထရီရယ်(လ်)(မြန်မာ)ကုမ္ပဏီလီမိတက်သည် - ၂၅-၄-၉၅ နေ့တွင်ကုမ္ပဏီမှတ်ပုံတင်အမှတ်-၁၁၅/ ၁၉၉၅-၉၆ ခုနှစ်ဖြင့်မှတ်ပုံတင်ခွင့်ရရှိခဲ့ပါသည်။ ၁၀-၁၀-၉၅ နေ့တွင်ကျပ် ၂၀၀၀,၀၀၀ိ/-(ကျပ်နှစ်ဆယ်သိန်းတိတိ) နှင့် ၁၂-၁၀-၉၈ နေ့တွင်ကျပ် ၈,၀၀၀,၀၀၀ိ/-(ကျပ်ရှစ်ဆယ်သိန်းတိတိ)စသည် ဖြင့်မတည်ငွေကျပ် ၁၀,၀၀၀,၀၀၀ိ/-(ကျပ်တစ်ဆယ်သန်းတိတိ) ထည့်ဝင်ခဲ့ပြီး ပုံစံ(၆) ဖြင့်လည်း မှတ်ပုံတင်ခဲ့ပါသည်။

၂။ ကုမ္ပဏီ၏သတ်မှတ်မတည်ငွေရင်း မှာကျပ် ၁၀,၀၀၀,၀၀၀ိ/-( ကျပ် တစ်ဆယ်သန်း တိတိ)ဖြစ်ရာကုမ္ပဏီ၏သတ်မှတ်မတည်ငွေရင်း အထိအပြည့်ထည့်ဝင်ခဲ့ပြီး ဖြစ်ပါသည်။ သို့ဖြစ်သော်လည်း ဤကုမ္ပဏီသည်လုပ်ငန်း များ တိုး ချဲ့ဆောင်ရွက်ရန်ရှိ၍ လက်ရှိသတ်မှတ်မတည်ငွေရင်း ဖြင့်လုံ လောက်မှုမရှိသောကြောင့် ၁-၁-၉၉ ဖြင့်ပြု လုပ်သောသာမန်ထက်ထူးကဲသောအစည်းအဝေး ကသတ်မှတ်မတည်ငွေရင်း တိုးမြှင့် ရန်ဆုံးဖြတ်ခဲ့ပါသည်။ သို့ဖြစ်၍အစည်းအဝေး ဆုံးဖြတ်ချက်အရကုမ္ပဏီ၏သတ်မှတ်မတည် ငွေရင်းကိုကျပ် ၂၀၀,၀၀၀,၀၀၀ိ/-(ကျပ်သန်း နှစ်ရာတိတိ) နှင့်ကျပ် ၁၀,၀၀၀ိ/- (ကျပ်တစ် သောင်း တိတိ) တန်အစုရှယ်ယာ ၂၀,၀၀၀( နှစ် သောင်း )ခွဲထား ခွင့်ပြုပါ ရန်တင်ပြပါသည်။

၃။ ( ၁-၁-၉၉ ) နေ့တွင်ပြုလုပ်သောသာမန်ထက်ထူးကဲသောအစည်းအဝေး ဆုံးဖြတ်ချက်ကိုပူး တွဲတင်ပြပါသည်။ မှတ်ပုံတင်ကြေး ပေးသွင်းငွေချလန်ကိုလည်းပူး တွဲ တင်ပြပါသည်။

လေးစားစွာဖြင့်

Managing Director
Earth Industrial (Myanmar) Co., Ltd

FORM XXVI

PARTICULARS OF DIRECTORS, MA GERS AND M AGING AGENTS AND ANY CHAN S THEREIN

(Myanmar Companies Act, See Section 87)

Name of Company : EARTH INDUSTRIAL (MYANMAR) CO.,LTD. Presented by : DAW KHINE ZAW




| The present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1. Daw Khine Zaw | Myanmar 12/Ka Ya Na (Naing)010065 | No.40, Inya Road, Kamayut Township, Yangon. | Merchant | Managing Director |
| 2. Daw Yin May | Myanmar 12/Ah La Na (Naing)021419 | No.30/G, Inya Road, Kamayut Township, Yangon. | Merchant | Resigned from Director w.e.f 8-1-98 |
| 3. Daw Yin Yin Tint | Myanmar | No.I(9), Bayintnaung Road, Mayangone Township, Yangon. | Merchant | Appointed as Director w.e.f 8-1-98 |

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ....................................." and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

Dated this... ... ..8-1-98... ... ...

Signature ... ... ... [signature] ... ... ...

Designation ... Managing Director

Earth Industrial (Myanmar) Ltd.

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကို မဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန် အတွက် မည်သည့် ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကို မဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ် စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူကြေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက် တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန်ရှိသော ငွေကြေးများ အတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီ မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ပြန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့် ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျောက်ပတ်သော နည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည် ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့ပြင် အချိန်ကာလ အားလျော်စွာ မြှုပ်နှံထားသော ငွေကို ပြန်လည် ရယူရန်နှင့် ပြင်ဆင်ပြောင်းလဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးဆိုင်ရာတာဝန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့် ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်း ဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင် သဘောတူညီချက် များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ငှားရမ်းထားသော မည်သည့် အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကို မဆို အတိအကျ ဆောင်ရွက်ခဲ့သည့် လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါ ကော်မရှင်များ၊ အမြတ်များ ခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်ဝိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ၊ အရာရှိများ၊ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းမျဉ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ပြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏ အမည်ဖြင့် ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စား ဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း၊ ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုး ရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကို မဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန် အတွက် မည်သည့် ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကို မဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ် စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူကြေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက် တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန်ရှိသော ငွေကြေးများ အတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပေးခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမှုစာရင်းခံလျော်ကြေး မကြွေးမြီ မအပ်နှံခြင်း အာမခံများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ပန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့် ရှိသည်ကို စီစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျောက်ပတ်သော နည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည် ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့ပြင် အချိန်ကာလ အားလျော်စွာ မြှုပ်နှံထားသော ငွေကို ပြန်လည် ရယူရန်နှင့် ပြင်ဆင်ပြောင်းလဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးဆိုင်ရာတာဝန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့် ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်း ဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင် သဘောတူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ပေးအပ်ထားသော မည်သည့် အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကို မဆို အတိအကျ ဆောင်ရွက်ခဲ့သည့် လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါ ကော်မရှင်များ၊ အမြတ်များ ခွဲဝေပေးခြင်း သည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ၊ အရာရှိများ၊ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းမျဉ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏ အမည်ဖြင့် ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စား ဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကတိစာချုပ်များကို လည်းကောင်း၊ ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

